**Kangrui (Myanmar) Agriculture & Livestock Development Company Limited မှ**
**တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း**
**နွားမွေးမြူရောင်းချခြင်းလုပ်ငန်း (raising, breeding and sales of cattle)**

| စဉ် | ဆောင်ရွက်သည့် အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | | ၆-၅-၂၀၁၉ | |
| ၂ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာန များသို့ သဘောထား တောင်းခံခြင်း | | | |
| | - မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၆-၅-၂၀၁၉ | | |
| | - ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန (One Stop Service) | ၂၀-၅-၂၀၁၉ | ၂၉-၅-၂၀၁၉ | |
| | - စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန | ၃၀-၅-၂၀၁၉ | ၁၄-၆-၂၀၁၉ | |
| | - စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန | ၄-၆-၂၀၁၉ | ၁၂-၆-၂၀၁၉ | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၁၆/၂၀၁၉ (၁၃-၅-၂၀၁၉) | | |
| ၅ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | - | | |
| ၆ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြရမည့်အချက်များ အကြောင်းကြားခြင်း | ၂၀-၅-၂၀၁၉ | ၂၉-၅-၂၀၁၉ | |
| ၇ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၀/၂၀၁၉ (၂၈-၆-၂၀၁၉) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | (၅၃) ရက် | | |

အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ်
ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Kangrui (Myanmar) Agriculture & Livestock Development Company Limited

လုပ်ငန်းအမျိုးအစား နွားမွေးမြူရောင်းချခြင်းလုပ်ငန်း (raising, breeding and sales of cattle)

PATအကြိမ်/နေ့စွဲ ၁၆/၂၀၁၉ (၁၃-၅-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✓) မပြီး(x) | မှတ်ချက် |
|---|---|---|---|
| ၁ | ဆောင်ရွက်မည့် မွေးမြူရေးအစီအစဉ်အား ရှင်းလင်းချက် ဖော်ပြရန်နှင့် နှစ်စဉ်မွေးမြူသည့်အရေအတွက်အား ပြန်လည် ပြင်ဆင်တင်ပြရန်။ | ✓ | |
| ၂ | မြေဧက (၄၉.၄၀)ဧကတွင် လုပ်ငန်းအလိုက် အသုံးပြုမည့် ဧရိယာ ခွဲခြားဖော်ပြပြီး Layout Plan တင်ပြရန်။ | ✓ | |
| ၃ | ရင်းနှီးမြှုပ်နှံငွေ ယူဆောင်လာမည့် အစီအစဉ် ဖော်ပြပေးရန်နှင့် သင့်လျော် သည့် ငွေကြေး အထောက်အထား တင်ပြရန်။ | ✓ | |
| ၄ | စက်ပစ္စည်းနှင့် ကုန်ကြမ်းစာရင်းအား ပြည်တွင်း/ပြည်ပ ခွဲခြားဖော်ပြပေးရန်။ | ✓ | |
| ၅ | ပစ္စည်း အမျိုးအစားများအား အုပ်စုအလိုက် ဖော်ပြပေးရန်။ | ✓ | |
| ၆ | မြေငှားစာချုပ် ပြင်ဆင် တင်ပြရန်။ | ✓ | |

ကန့်သတ်

အကြောင်းအရာ။ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Kangrui (Myanmar) Agriculture & Livestock Development Company Limited မှ နွားမွေးမြူရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - Kangrui (Myanmar) Agriculture & Livestock Development Company Limited<br>- Mr. Xinhua Gu |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Shanghai Penghe Supply Chain Management Company Limited (China) ၉၀%<br>Dehong Penghe Agriculture Development Company Limited (China) ၁၀% |
| | လုပ်ငန်းအမျိုးအစား | - နွားမွေးမြူရောင်းချခြင်းလုပ်ငန်း (raising, breeding and sales of cattle) |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်- ၆၂ ၊ ၆၂/၁၅၀၊ ၆၂/၁၇၃ ၊ ၆၃/၁၁၈၊ ၆၃/၁၅၆၊ ၆၃/၁၆၉၊ ၆၄/က၊ ၆၅/၁၇၂၊ ၆၆၊ ၈၆၊ ၈၆/၁၅၅၊ ၈၆/၁၇၉၊ ၈၇/၁၊ ၈၇/၁၇၅၊ ၉၀/၁၇၇၊ ၉၁/၁၈၆၊ ကွင်းအမှတ်-၂၀/ခ၊ မြင်းသေတောင်ရိုးအရှေ့ကွင်း၊ ညောင်အုပ်ကျေးရွာအုပ်စု၊ မလှိုင်မြို့နယ်၊ မိတ္ထီလာခရိုင်၊ မန္တလေးတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်/မြေအသုံးပြုခွင့်ရရှိသူ | - ဦးသဲလွင် |
| | မြေအကျယ်အဝန်း | - ဦးပိုင်အမှတ် (၆၂)ရှိယာမြေ (၀.၂၈)ကေ(ဦးထွန်းကြည်)<br>ဦးပိုင်အမှတ်(၆၂/၁၅၀)ရှိယာမြေ (၈.၄၈)ကေ(ဦးထွန်းကြည်)<br>ဦးပိုင်အမှတ် (၆၂/၁၇၃)ရှိယာမြေ (၁.၆၆)ကေ(ဦးဝင်းအောင်)<br>ဦးပိုင်အမှတ် (၆၃/၁၁၈)ရှိယာမြေ (၄.၀၂)ကေ(ဦးမြင့်အောင်)<br>ဦးပိုင်အမှတ် (၆၃/၁၅၆)ရှိယာမြေ (၃.၁၀)ကေ(ဒေါ်တင်မာစန်း)<br>ဦးပိုင်အမှတ် (၆၃/၁၆၉)ရှိယာမြေ (၁.၅၄)ကေ(ဦးဝင်းအောင်)<br>ဦးပိုင်အမှတ် (၆၄/က)ရှိယာမြေ (၃.၁၃)ကေ(ဦးထွန်းကြည်)<br>ဦးပိုင်အမှတ် (၆၅/၁၇၂)ရှိယာမြေ (၁.၁၅)ကေ(ဒေါ်ဒေါင်း)<br>ဦးပိုင်အမှတ် (၆၆)ရှိယာမြေ (၀.၃၃)ကေ(ဦးထွန်းကြည်)<br>ဦးပိုင်အမှတ် (၈၆)ရှိယာမြေ (၄.၄၆)ကေ(ဦးညိမ်းမောင်)<br>ဦးပိုင်အမှတ် (၈၆/၁၇၉)ရှိယာမြေ (၁.၀၁)ကေ(ဦးဝင်းအောင်)<br>ဦးပိုင်အမှတ် (၈၆/၁၅၅)ရှိယာမြေ (၈.၉၀)ကေ(ဦးညိမ်းမောင်) |

| | | |
|---|---|---|
| | | - ဦးပိုင်အမှတ် (၈၇/၁)ရှိယာမြေ (၂.၂၃)ကေ(ဦးချစ်ဆွေ)<br>ဦးပိုင်အမှတ် (၈၇/၁၇၅)ရှိယာမြေ (၂.၂၂)ကေ(ဦးချစ်ဆွေ)<br>ဦးပိုင်အမှတ် (၉၀/၁၇၇)ရှိယာမြေ (၄.၉၂)ကေ(ဦးဝင်းအောင်)<br>ဦးပိုင်အမှတ် (၉၁/၁၈၆)ရှိယာမြေ (၁.၉၇)ကေ(ဦးတင်မင်း) |
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - စုစုပေါင်းမြေ ၄၉.၄၀ ကေ (၁၉၉,၉၁၄.၈၈ စတုရန်းမီတာ)<br>- တစ်နှစ်လျှင် မြေငှားရမ်းခနှုန်းUS$ ၈၄၂၇.၆၄<br>တစ်နှစ်လျှင် တစ်စတုရန်းမီတာငှားရမ်းခနှုန်း US$ ၀.၀၄၂၁ |
| | မြေငှားရမ်းအသုံးပြုခွင့်သက်တမ်း | - ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ် |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ၅၀ နှစ် |
| | တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းထည့်ဝင်သည့်အမျိုးအစား | - **အမေရိကန်ဒေါ်လာ ၃၇.၃၃၃ သန်း** |
| | - ငွေသား<br>- ဆောက်လုပ်ရေးပစ္စည်း<br>- စက်ပစ္စည်း(ပြည်တွင်း)<br>- ဆေးနှင့်ဆေးပစ္စည်းကိရိယာ(ပြည်ပ) | - US$ ၂၅.၀၆၂ သန်း<br>- US$ ၆.၃၉၃ သန်း<br>- US$ ၅.၈၃၃ သန်း<br>- US$ ၀.၀၄၅ သန်း |
| | **စုစုပေါင်း** | - **US$ ၃၇.၃၃၃ သန်း** |
| ၇။ | ဝန်ထမ်းအင်အား | - **၅၃ ဦး** |
| | ပြည်တွင်း | - ၄၃ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၁၆၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၁၀ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၂၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂၀၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်ပ ၁၀၀% |

<table>
<tr>
<td></td>
<td>ထုတ်လုပ်မှု (၆ နှစ်မြောက်)</td>
<td>
<table>
<tr><th>စဉ်</th><th>အမျိုးအစား</th><th>ယူနစ်</th><th>အရေအတွက်</th><th>ရောင်းချမည့် ဈေးနှုန်း(US$)</th></tr>
<tr><td>(က)</td><td>Export Bull</td><td>Nos</td><td>၁၅၁၉</td><td>၁၅၅၀</td></tr>
<tr><td>(ခ)</td><td>Old Oxen</td><td>Nos</td><td>၂၀</td><td>၁၃၀၀</td></tr>
<tr><td>(ဂ)</td><td>By Product (Local) Cattle Manure</td><td>Ton</td><td>၂၅၁၂၀၀</td><td>၄၃.၉၉</td></tr>
</table>
</td>
</tr>
<tr>
<td>၉။</td>
<td>လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်)</td>
<td>- ၆၀၀ kWh</td>
</tr>
<tr>
<td>၁၀။</td>
<td>အခြားတင်ပြချက်</td>
<td>
- မြေအထောက်အထားအဖြစ် ဦးထွန်းကြည်၊ ဦးဝင်းအောင်၊ ဦးမြင့်အောင်၊ ဒေါ်တင်မာစန်း၊ ဒေါ်ဒေါင်း၊ ဦးညိမ်းမောင်၊ ဦးချစ်ဆွေ၊ ဦးတင်မင်းတို့အမည်များဖြင့် လယ်ယာမြေပုံစံ (၇) နှင့် မြေစာရင်းပုံစံ- ၁၀၅ တင်ပြထားပါသည်။<br><br>
- မြေပိုင်ရှင် ဦးဝင်းအောင်၊ ဦးမြင့်အောင်၊ ဒေါ်တင်မာစန်း၊ ဒေါ်ဒေါင်း၊ ဦးညိမ်းမောင်၊ ဦးချစ်ဆွေ၊ ဦးတင်မင်း နှင့် ဦးထွန်းကြည်၏ အမွေဆက်ခံပိုင်ခွင့်ရှိသူများ ထံမှ ဦးသဲလွင် ဝယ်ယူထားကြောင်း ယာမြေကွက် နှင့် ယင်း ယာမြေကွက် ပေါ်ရှိ လုပ်ကိုင်ပိုင်ဆိုင် အကျိုးခံစားခွင့်အရပ်ရပ် အားလုံး တို့ကို အဆုံးအပိုင်လက်ရောက် လွှဲပြောင်း ရောင်းချသည့် အရောင်းအဝယ် ကတိစာချုပ်များတင်ပြထားပါသည်။<br><br>
- ဦးသဲလွင်မှ လယ်ယာမြေ (၄၉.၄၀)ကေအား အခြားနည်း အသုံးပြုခွင့် လျှောက်ထားသည့် အထောက်အထား တင်ပြထားပါသည်။<br><br>
- မြေပိုင်ရှင်ဦးသဲလွင် နှင့် Kangrui (Myanmar) Agriculture & Livestock Development Company Limitedတို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)ကိုတင်ပြထားပါသည်။<br><br>
- ပြည်ပမှ တင်သွင်းမည့် ဆေးနှင့် ဆေးပစ္စည်းကိရိယာ US$ ၄၅,၄၄၇.၄၃ တန်ဖိုးရှိ စာရင်းတင်ပြထားပါသည်။<br><br>
- အဆိုပြုလုပ်ငန်း၏ Building Design ၊ Breeding Farm Layout Plan ၊ Location Map ၊ Large-Scale Cattle Breeding Project များ တင်ပြထားပါသည်။
</td>
</tr>
</table>

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | - ငွေရေးကြေးရေးအထောက်အထားအဖြစ် Shanghai Penghe Supply Chain Management Co., Ltd. အမည်ဖြင့် Bank of shanghai တွင် ၁၁-၆-၂၀၁၉ ရက်စွဲဖြင့် ယွမ် ၅၀,၀၀၀,၃၃၀.၉၁ နှင့် ညီမျှသော US$ ၇,၂၃၅,၉၃၇.၉၀ နှင့် DeHong PengHe Agricultural Development Co., Ltd. အမည်ဖြင့် Agricultural Development Bank of China တွင် ၁၁-၆-၂၀၁၉ ရက်စွဲဖြင့် ယွမ် ၄၈,၅၆၆,၀၀၀.၀၀၀ နှင့် ညီမျှသော US$ ၇,၀၂၈,၃၆၄.၆၉ ရှိကြောင်းတင်ပြထားပါသည်။<br>- မီဘေးကာကွယ်ရေးစီမံချက်၊ လုပ်သားများ၏ လူမှုဖူလုံရေး၊ သက်သာချောင်ချိမှုဆောင်ရွက်မည့် အစီအမံများနှင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းပြုလုပ်မည့် အစီမံများ နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0141 တွင် အကျုံးဝင်ပါသည်။<br>- ယခင်ကKangrui (Myanmar) Agriculture & Livestock Development Company Limited သည် ဦးပိုင်အမှတ်(၁၅၊ ၁၆၊ ၁၇၊ ၂၀)၊ ပြင်ပကွင်း၊ ဆိုင်းခေါင် ကျေးရွာအုပ်စု၊ မူဆယ်မြို့နယ်၊ မူဆယ်ခရိုင်၊ ရှမ်းပြည်နယ် (မြောက်ပိုင်း)ရှိ မြေ(၅၄.၁၂)ကေတွင် အဆိုပြုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါ ရန် တင်ပြလာခြင်းအား စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အရ အဆိုပြုချက် ပြန်လည်ပေးပို့ခဲ့ပါသည်။<br>- ယခုအခါ ကုမ္ပဏီမှ ဦးပိုင်အမှတ်- ၆၂ ၊ ၆၂/၁၅၀၊ ၆၂/၁၇၃ ၊ ၆၃/၁၁၈၊ ၆၃/၁၅၆၊ ၆၃/၁၆၉၊ ၆၄/က၊ ၆၅/၁၇၂၊ ၆၆၊ ၈၆၊ ၈၆/၁၇၉၊ ၈၆/၁၅၅၊ ၈၇/၁၊ ၈၇/၁၇၅၊ ၉၀/၁၇၇၊ ၉၁/၁၈၆၊ ကွင်းအမှတ်-၂၀/ခ၊ မြင်းသေတောင်ရိုးအရှေ့၊ ညောင်အုပ်ကျေးရွာအုပ်စု၊ မလိုင်မြို့နယ်၊ မိတ္ထီလာခရိုင်၊ မန္တလေးတိုင်းဒေသကြီးတွင် ဆောင်ရွက်မည်ဖြစ်ပါသဖြင့် အဆိုပြုချက် ပြန်လည် တင်ပြလာပါသည် |

**ကန့်သတ်**

၅

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ခ-ဝ၄၁/၂၀၁၉( ၁၇၉ )

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဇွန်လ ၂၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Kangrui (Myanmar) Agriculture & Livestock Development Company Limited မှ နွားမွေးမြူ ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ တရုတ်နိုင်ငံရှိ Shanghai Penghe Supply Chain Management Company Limited မှ ၉၀% နှင့် Dehong Penghe Agriculture Development Company Limited မှ ၁၀% အစုရှယ်ယာ များ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Kangrui (Myanmar) Agriculture & Livestock Development Company Limited တည်ထောင်ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်- ၆၂ ၊ ၆၂/၁၅၀၊ ၆၂/၁၇၃ ၊ ၆၃/၁၁၈၊ ၆၃/၁၅၆၊ ၆၃/၁၆၉၊ ၆၄/က၊ ၆၅/၁၇၂၊ ၆၆၊ ၈၆၊ ၈၆/၁၅၅၊ ၈၆/၁၇၉၊ ၈၇/၁၊ ၈၇/၁၇၅၊ ၉၀/၁၇၇၊ ၉၁/၁၈၆၊ ကွင်းအမှတ်-၂၀/ခ မြင်းသေတောင်ရိုးအရှေ့၊ ညောင်အုပ် ကျေးရွာအုပ်စု၊ မလှိုင်မြို့နယ်၊ မိတ္ထီလာခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ(၄၉.၄၀)ဧက (၁၉၉,၉၁၄.၈၈ စတုရန်းမီတာ)အား ငှားရမ်း၍ နွားမွေးမြူ ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဦးဝင်းအောင်၊ ဦးမြင့်အောင်၊ ဒေါ်တင်မာစန်း၊ ဒေါ်ဒေါင်း၊ ဦးညိမ်းမောင်၊ ဦးချစ်ဆွေ၊ ဦးတင်မင်း နှင့် ဦးထွန်းကြည်၏ အမွေဆက်ခံပိုင်ခွင့်ရှိသူများ ထံမှ ဦးသဲလွင် ဝယ်ယူထားကြောင်း ယာမြေကွက် နှင့် ယင်း ယာမြေကွက် ပေါ်ရှိ လုပ်ကိုင်ပိုင်ဆိုင် အကျိုးခံစားခွင့်အရပ်ရပ် အားလုံး တို့ကို အဆုံးအပိုင်လက်ရောက် လွှဲပြောင်း ရောင်းချသည့် အရောင်းအဝယ် ကတိစာချုပ်များ၊ ဦးထွန်းကြည်၊ ဦးဝင်းအောင်၊ ဦးမြင့်အောင်၊ ဒေါ်တင်မာစန်း၊ ဒေါ်ဒေါင်း၊ ဦးညိမ်းမောင်၊ ဦးချစ်ဆွေ၊ ဦးတင်မင်းတို့ အမည်များဖြင့် လယ်ယာမြေပုံစံ (၇) နှင့် မြေစာရင်းပုံစံ- ၁၀၅ အထောက်အထား များ နှင့် Layout Plan တို့ကို တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂)ကြိမ် ဖြစ်ပါသည်။ မြေ (၄၉.၄၀)ဧကအတွက် တစ်နှစ်လျှင် မြေငှားရမ်းခနှုန်း US$ ၈၄၂၇.၆၄ ဖြစ်ပြီး တစ်နှစ်လျှင် တစ်စတုရန်းမီတာ ငှားရမ်းခနှုန်း US$ ၀.၀၄၂၁ ဖြစ်ပါသည်။

၄။ လုပ်ငန်း စီမံကိန်းကာလမှာ ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့် မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

**ကန့်သတ်**

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၃၇.၃၃၃ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| ထည့်ဝင်သည့် အမျိုးအစား | ထည့်ဝင်ငွေ (US$/သန်း) |
|---|---|
| ငွေသား | - US$ ၂၅.၀၆၂ သန်း |
| ဆောက်လုပ်ရေးပစ္စည်း | - US$ ၆.၃၉၃ သန်း |
| စက်ပစ္စည်း(ပြည်တွင်း) | - US$ ၅.၈၃၃ သန်း |
| ဆေးနှင့်ဆေးပစ္စည်း ကိရိယာ(ပြည်ပ) | - US$ ၀.၀၄၅ သန်း |
| **စုစုပေါင်း** | **- US$ ၃၇.၃၃၃ သန်း** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၄၃)ဦး နှင့် ပြည်ပ ဝန်ထမ်း (၁၀) ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၅၃ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၆၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၂၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ နွားများကို ပြည်ပသို့ ၁၀၀% တင်ပို့မည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါ သည်-

| စဉ် | အမျိုးအစား | ယူနစ် | အရေအတွက် | ရောင်းချမည့် ဈေးနှုန်း(US$) |
|---|---|---|---|---|
| (က) | Export<br>Bull | Nos | ၁၅၁၉ | ၁၅၅၀ |
| (ခ) | Old Oxen | Nos | ၂၀ | ၁၃၀၀ |
| ( ဂ ) | By Product (Local)<br>Cattle Manure | Ton | ၂၅၁၂၀၀ | ၄၃.၉၉ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည်ဆိုပါက ဒေသတွင်းနွားမွေးမြူထုတ်လုပ်မှု ဖွံ့ဖြိုးတိုးတက်လာမည်ဖြစ်ပါ၍ မွေးမြူရေး နှင့်ကုသရေးဦးစီးဌာနက ချမှတ်ထားသော ကောင်းမွန်သောမွေးမြူရေး ကျင့်စဉ် (Good Animal Husbandry Practice-GAHP) နည်းစနစ်များနှင့်အညီ မွေးမြူမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားလာပါသည်။ နောက်ဆက်တွဲ(က)

(ခ) စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ နွားမွေးမြူရောင်းချခြင်းလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် (၁၅/၂၀၁၇) တွင် ဖော်ပြထားသည့် အချက်များနှင့် ညီညွတ်စွာဆောင်ရွက်ခြင်းဖြစ်ပါက ကုန်သွယ်မှုရှုထောင့်မှ ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားလာပါသည်။ နောက်ဆက်တွဲ(ခ)

(ဂ) ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနမှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၄၉)၊ (၆၃)နှင့်အညီ ပြုစုဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲ တင်ပြရမည် ဖြစ်ကြောင်း ပြန်ကြားလာပါသည်။ နောက်ဆက်တွဲ(ဂ)

(ဃ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ သဘောထား တောင်းခံထားပါသည်။ နောက်ဆက်တွဲ(ဃ)

၉။ ငွေရေးကြေးရေ အထောက်အထားအဖြစ် Shanghai Penghe Supply Chain Management Co., Ltd. အမည်ဖြင့် Bank of shanghai တွင် ၁၁-၆-၂၀၁၉ ရက်စွဲဖြင့် ယွမ် ၅၀,၀၀၀,၃၃၀.၉၁ နှင့် ညီမျှသော US$ ၇,၂၃၅,၉၃၇.၉၀ နှင့် DeHong PengHe Agricultural Development Co., Ltd. အမည်ဖြင့် Agricultural Development Bank of China တွင် ၁၁-၆-၂၀၁၉ ရက်စွဲဖြင့် ယွမ် ၄၈,၅၆၆,၀၀၀.၀၀၀ နှင့် ညီမျှသော US$ ၇,၀၂၈,၃၆၄.၆၉ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ လုပ်ငန်းခွင်သာယာရေး နှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက် နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၁။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ ခုနှစ် မေလ ၁၃ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၁၆/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ် တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0141 တွင် အကျုံးဝင်ပါသည်။

(ခ) ဦးသဲလွင်မှ လယ်ယာမြေ (၄၉.၄၀)ဧကအား အခြားနည်းအသုံးပြုခွင့် ရရှိရန် ဆက်လက် လျှောက်ထားရန် နှင့် အမည်ပေါက် ရရှိရန် အတွက် ဆက်လက် ဆောင်ရွက်သွားရမည် ဖြစ်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့် နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Kangrui (Myanmar) Agriculture & Livestock Development Company Limited မှ နွားမွေးမြူရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်** ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(သန့်စင်လွင်၊ ခေတ္တအတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (က)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၂၁၄ /၂၀၁၉)

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇွန်လ ၁၄ ရက်

NPT-2612
17.6.19

သို့

193
MIC, 19/6

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁-၅-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက -၂/ ခ-၀၄၁/၂၀၁၉(၁၄၀)

၁။ Kangrui (Myanmar) Agriculture & Livestock Development Co., Ltd. က ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ မိတ္ထီလာခရိုင်၊ မလှိုင်မြို့နယ်၊ ညောင်အုပ်ကျေးရွာအုပ်စု၊ မြင်းသေတောင်ရိုးအရှေ့၊ ဦးပိုင်အမှတ်- ၆၂၊ ၆၂/၁၅၀၊ ၆၂/၁၇၃၊ ၆၃/၁၁၈၊ ၆၃/၁၅၆၊ ၆၃/၁၆၉၊ ၆၄/က၊ ၆၅/၁၇၂၊ ၆၆၊ ၈၆၊ ၈၆/၁၇၉၊ ၈၆/၁၅၅၊ ၈၇/၁၊ ၈၇/၁၇၅၊ ၉၀/၁၇၇၊ ၉၁/၁၈၆၊ ကွင်းအမှတ်-၂၀/ခ ရှိ မြေ (၄၉.၄၀) ဧက (၁၉၉၉၁၄.၈၈ စတုရန်းမီတာ) အား ငှားရမ်း၍ နွားမွေးမြူရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြမှုအပေါ် စိုက်ပျိုးရေး၊မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနက သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး၊ တိုင်းဒေသကြီးဦးစီးမှူး ခေါင်းဆောင်သောအဖွဲ့ဖြင့် ကွင်းဆင်းစစ်ဆေးခဲ့ရာ နွားမွေးမြူရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန် လျှောက်ထားသော မြေနေရာ ဧရိယာ (၄၉.၄၀) ဧက သည် ယာမြေ ညံ့အမျိုးအစားဖြစ်ကြောင်း၊ ပတ်ဝန်းကျင်တွင် လက်ရှိစိုက်ပျိုးလုပ်ကိုင်နေသည့် လယ်ယာမြေများအား ထိခိုက်မှုမရှိကြောင်း၊ ဆည်ရေသောက်ဧရိယာအတွင်း တည်ရှိမှုမရှိခြင်းကြောင့် ရေသွင်းရေထုတ်ပြုလုပ်သည့် မြောင်းများအား ထိခိုက်မှုမရှိကြောင်း၊ အများပြည်သူတို့အသုံးပြုနေသောလမ်းများ၊ လယ်ယာထွက်ကုန်လမ်းများနှင့် လွတ်ကင်းပြီး ထိခိုက်မှုမရှိကြောင်းနှင့် လယ်ယာမြေဥပဒေ၊နည်းဥပဒေနှင့်အညီ ဆောင်ရွက်လျက်ရှိပါကြောင်း စိစစ်တွေ့ရှိမှုများအား တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ Kangrui (Myanmar) Agriculture & Livestock Development Co., Ltd. က မန္တလေးတိုင်းဒေသကြီး၊ မလှိုင်မြို့နယ်တွင် မြေ (၄၉.၄၁) ဧက ဌားရမ်း၍ နွားမွေးမြူရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်မည်ဆိုပါက ဒေသတွင်းနွားမွေးမြူထုတ်လုပ်မှု ဖွံ့ဖြိုးတိုးတက်လာမည်ဖြစ်ပါ၍ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနက ချမှတ်ထားသော ကောင်းမွန်သောမွေးမြူရေးကျင့်စဉ် (Good Animal Husbandry Practice-GAHP) နည်းစနစ်များနှင့်အညီ မွေးမြူမည်ဆိုပါက စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) ရုံးလက်ခံ

(၃) မျှော

NPT-2580
14.6.19

နောက်ဆက်တွဲ (ခ)

192
MIC, 1916

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ဓက-၁၄/ ၄-၁၁/ ၂၀၁၉ ( ၄၈ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဇွန်လ ၁၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားပေးပို့ခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄ - ၆ - ၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၂/ ခ - ဝ၄၁/ ၂၀၁၉ (၁၄၅)

၁။ တရုတ်နိုင်ငံရှိ Shanghai Penghe Supply Chain Management Company Limited မှ ၉၀% နှင့် Dehong Penghe Agriculture Development Company Limited မှ ၁၀% အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Kangrui (Myanmar) Agriculture & Livestock Development Company Limited တည်ထောင်ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်-၆၂၊ ၆၂/၁၅၀၊ ၆၂/၁၇၃၊ ၆၃/၁၁၈၊ ၆၃/၁၅၆၊ ၆၃/၁၆၉၊ ၆၄/က၊ ၆၅/၁၇၂၊ ၆၆၊ ၈၆၊ ၈၆/၁၇၉၊ ၈၆/၁၅၅၊ ၈၇/၁၊ ၈၇/၁၇၅၊ ၉၀/၁၇၇၊ ၉၁/၁၈၆၊ ကွင်းအမှတ်-၂၀/ခ၊ မြင်းသေတောင်ရိုးအရှေ့၊ ညောင်အုပ်ကျေးရွာအုပ်စု၊ မလှိုင်မြို့နယ်၊ မိတ္ထီလာခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ(၄၉.၄၀)ဧက(၁၉၉,၉၁၄.၈၈ စတုရန်းမီတာ)အား ငှားရမ်း၍ နွားမွေးမြူ ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြထားသည့် ကိစ္စနှင့်ပတ်သက်၍ ခွင့်ပြုမိန့်အားရက်ပေါင်း(၆၀)အတွင်း ထုတ်ပေးရမည်ဖြစ်၍ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ Kangrui (Myanmar) Agriculture & Livestock Development Co., Ltd မှ အဆိုပြုချက် တင်ပြသည့်ကိစ္စသည် နွားမွေးမြူရောင်းချခြင်းလုပ်ငန်းကို ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားရာ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် (၁၅/၂၀၁၇) ဖြင့် ထုတ်ပြန်ထားသော ကန့်သတ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ စာရင်းတွင် အကျုံးဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ ယင်းအမိန့်ကြော်ငြာစာအရ တိရစ္ဆာန်စီးပွားဖြစ် မွေးမြူထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဖြစ်ပါက မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ထုတ်ပြန်ထားသည့် ဥပဒေ၊ နည်းဥပဒေများ၊ အမိန့်ကြော်ငြာစာ၊ အမိန့်ညွှန်ကြားချက်၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Kangrui (Myanmar) Agriculture & Livestock Development Co., Ltd မှ အဆိုပြုချက် တင်ပြထားသည့် နွားမွေးမြူရောင်းချခြင်းလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု

ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် (၁၅/၂၀၁၇) တွင် ဖော်ပြထားသည့်အချက်များနှင့် ညီညွတ်စွာ ဆောင်ရွက်ခြင်းဖြစ်ပါက စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနအနေဖြင့် ကုန်သွယ်မှုရှုထောင့်မှ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(

( အောင်စိုး၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

နောက်ဆက်တွဲ (ဂ)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၂၅/၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ မေလ ၂၉ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Kangrui (Myanmar) Agriculture & Livestock Development Company Limited မှ နွားမွေးမြူရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၅-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၄၁/ ၂၀၁၉ (၁၃၀)

၁။ တရုတ်နိုင်ငံရှိ Shanghai Penghe Supply Chain Management Company Limited မှ ၉၀% နှင့် Dehong Penghe Agriculture Development Company Limited မှ ၁၀% အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Kangrui (Myanmar) Agriculture & Livestock Development Company Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်-၆၂၊ ၆၂/၁၅၀၊ ၆၂/၁၇၃၊ ၆၃/၁၁၈၊ ၆၃/၁၅၆၊ ၆၃/၁၆၉၊ ၆၄/က၊ ၆၅/၁၇၂၊ ၆၆၊ ၈၆၊ ၈၆/၁၇၉၊ ၈၆/၁၅၅၊ ၈၇/၁၊ ၈၇/၁၇၅၊ ၉၀/၁၇၇၊ ၉၁/၁၈၆၊ ကွင်းအမှတ်- ၂၀/ခ မြင်းသေတောင်ရိုး အရှေ့၊ ညောင်အုပ်ကျေးရွာအုပ်စု၊ မလှိုင်မြို့နယ်၊ မိတ္ထီလာခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ ၄၉.၄၁ ဧက (၁,၉၉,၉၁၄.၈၈ စတုရန်းမီတာ) အားငှားရမ်း၍ နွားမွေးမြူ ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

- (က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁၂) လ ဖြစ်ကြောင်း၊
- (ခ) အဆိုပြုလုပ်ငန်းအား မြေ (၁,၉၉,၉၁၄.၈၈ စတုရန်းမီတာ) တွင် (၈၀၀ x ၅၀၀) မီတာရှိအဆောက်အဦ (၆) လုံးတည်ဆောက်ကာ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊
- (ဂ) အဆိုပြုလုပ်ငန်းမှ ပထမနှစ်တွင် အကောင်ရေ (၃၀၀) မှ (၁၀) နှစ်အတွင်း အကောင်ရေ (၅၈၀၀) ကျော်အထိ တိုးမြှင့် မွေးမြူကာလုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊
- (ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊
- (င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကိုလိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Kangrui (Myanmar) Agriculture & Livestock Development Company Limited မှနွားမွေးမြူရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အဆောက်အဦများတည်ဆောက်ရာ၌ မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှထွက် ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံး ယာဉ်/ ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထု ညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှထွက်ရှိလာမည့်စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) နွားမွေးမြူရေးခြံအတွင်း ပိုးသတ်ဆေးဖြန်းခြင်းလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများ၊ toxic compound များကြောင့် ပတ်ဝန်းကျင်မြေထု/ ရေထု ညစ်ညမ်းခြင်းနှင့် လုပ်သားများ၏ ကျန်းမာရေးကို ထိခိုက်စေခြင်း၊

(င) မွေးမြူရေးခြံအတွင်းမှ ထွက်ရှိလာမည့် နွားချေးများ၊ အစာကြွင်းအစာကျန် ဆေးကြောသည့်နေရာများမှ ထွက်ရှိလာမည့် စွန့်ပစ်အရည်/ပစ္စည်းများနှင့် အစာသိုလှောင်သည့်နေရာနှင့် နွားမွေးမြူထားသည့်ခြံမှ ပတ်ဝန်းကျင်နေရာများသို့ ဆက်စပ်အနံ့ဆိုးများပျံ့နှံ့ရောက်ရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်းနှင့် ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Kangrui (Myanmar) Agriculture & Livestock Development Company Limited မှ နွားမွေးမြူရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများ ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ ကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များ အားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ

တာဝန်ခံဆောင် ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်

ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်းရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင် (ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ